ကုမ္ပဏီအမည် - **Amazing Advanced Transforming & Manufacturing Co., Ltd.**

လုပ်ငန်း - **ရာခိုင်နှုန်းပြည့် မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် စပါးခွဲလောင်စာတောင့်ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း**

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့်နေ့စွဲ | ပြည်ကြားချက်ရရှိသည့်နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | ကုမ္ပဏီမှအဆိုပြုလွှာတင်ပြလာခြင်း | ၁၁-၁-၂၀၁၈ | | |
| ၂ | **သဘောထားမှတ်ချက်တောင်းခံခြင်း**<br>(က) ဧရာဝတီတိုင်းဒေသကြီး အစိုးရအဖွဲ့<br>(ခ)ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန | <br>၂၇-၂-၂၀၁၈<br><br>၂၇-၂-၂၀၁၈ | | |
| ၃ | အဆိုပြုချက်စိစစ်ရေးအဖွဲ့အစည်းအဝေး၁/၂၀၁၈ သို့ တင်ပြခြင်း | ၁၄-၃-၂၀၁၈ | | |
| ၄ | ကုမ္ပဏီသို့ဌာနဆိုင်ရာသဘောထားမှတ်ချက်များအရပြင်ဆင်တင်ပြရန် အကြောင်းကြားခြင်း | ၁၅-၃-၂၀၁၈ | | |
| ၅ | ကုမ္ပဏီမှလိုအပ်ချက်များပြင်ဆင်တင်ပြလာခြင်း | ၂၈-၃-၂၀၁၈ | ဧပြီလပထမပတ်အတွင်း၌ အရေးကြီးပုဂ္ဂိုလ် ခရီးစဉ်၊ ဝန်ကြီးချုပ်မှ နေပြည်တော်သို့ အစည်းအဝေးတက်ရောက်ခြင်းရှိပါသဖြင့် ကော်မတီအစည်းအဝေးကျင်းပနိုင်ခြင်းမရှိခဲ့ပါ။ ၁၂-၄-၂၀၁၈ ရက်နေ့တွင် ဝန်ကြီးချုပ်နှင့် စီမံ/ဘဏ္ဍာဝန်ကြီး၊ လျှပ်စစ်ဝန်ကြီးတို့ထံ ကော်မတီ အစည်းအဝေးကျင်းပ နိုင်ရေးတင်ပြခဲ့ပြီး တိုင်းဒေသကြီး လေဘေးကယ်ဆယ်ရေးကိစ္စများရှိနေပါသဖြင့် ကျင်းပနိုင်ခြင်းမရှိခဲ့ပါ။ | |
| ၆ | ကော်မတီအစည်းအဝေးသို့တင်ပြခြင်း (၂/၂၀၁၈) ARIC | ၂၇-၄-၂၀၁၈ | | |
| | **စုစုပေါင်းကြာမြင့်ရက် ၁၄၇ ရက်** | | | |

ကန့်သတ်

Amazing Advanced Transforming & Manufacturing Co., Ltd. မှ ရခိုင် နှန်းပြည့် မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် စပါးခွံလောင်စာတောင့် ထုတ်လုပ် ရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီအတည်ပြုလျှောက်ထားလွှာတင်ပြလာခြင်း နှင့်စပ်လျဉ်း၍ တင်ပြရန်လိုအပ်သည့် အချက်အလက်များ

| စဉ် | ကုမ္ပဏီအမည် | လုပ်ငန်း အမျိုးအစား | PAT အကြိမ် နေ့စွဲ | ဆွေးနွေးချက်မှ တင်ပြရန်လိုအပ်ချက် | ဆောင် ရွက် ပြီးစီးမှု | မှတ် ချက် |
|---|---|---|---|---|---|---|
| ၁ | ၂ | ၃ | ၄ | ၅ | ၆ | ၇ |
| ၁။ | Amazing Advanced Transform-ing & Manufact-uring Co., Ltd. | စပါးခွံလောင် စာတောင့် ထုတ်လုပ် ရောင်းချခြင်း လုပ်ငန်း | ၁/၂၀၁၈ (၁၄-၃-၂၀၁၈) | (က) သဘာဝပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Paln-EMP) ရေးဆွဲတင်ပြရန်။ | ရေးဆွဲ တင်ပြ ထားပါ သည်။ | |
| | | | | (ခ) သက်ဆိုင်ရာဌာန၊ အဖွဲ့အစည်းများ၏ လမ်းညွှန်ချက်နှင့် အညီပြင်ဆင် တင်ပြရန်။ | လိုက်နာ ဆောင်ရွက် မည် ဖြစ် ကြောင်း တင်ပြ ထားပါ သည်။ | |

အကြောင်းအရာ။ **Amazing Advanced Transforming & Manufacturing Co., Ltd. မှ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် စပါးခွဲလောင်စာတောင့် ထုတ်လုပ် ရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ အတည်ပြု လျှောက်ထားလွှာ တင်ပြလာခြင်းကိစ္စ**

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်<br>ရင်းနှီးမြှုပ်နှံသူ<br>ရင်းနှီးမြှုပ်နှံမှုပုံသဏ္ဍာန်<br>လုပ်ငန်းအမျိုးအစား | - Amazing Advanced Transforming & Manufacturing Co., Ltd.<br>- ဦးအေးကို<br>- မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု<br>- စပါးခွံလောင်စာတောင့်ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း |
| ၂။ | တည်နေရာ | - ဧရာဝတီတိုင်းဒေသကြီး၊ မအူပင်ခရိုင်၊ ညောင်တုန်းမြို့နယ်၊ တူးချောင်းကျေးရွာအုပ်စု၊ ကွင်းအမှတ်- ၄၀၉၊ တူးချောင်းအကွက်၊ ဦးပိုင်အမှတ်- ၂၂၈ ရှိ မြေ ၂.၀၀ ဧက |
| ၃။ | မြေပိုင်ရှင်<br>အကျယ်အဝန်း<br>မြေ/အဆောက်အအုံငှားရမ်းခ<br>မြေ/အဆောက်အအုံငှားရမ်း/<br>အသုံးပြုခွင့်သက်တမ်း | - ဦးအေးကို<br>- မြေဧရိယာ ၂.၀၀ ဧက<br>- -<br>- - |
| ၄။ | ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုသည့်သက်တမ်း | - ၁၀ နှစ် |
| ၅။ | တည်ဆောက်မှုကာလ/ပြင်ဆင်မှုကာလ | - ၆ လ |
| ၆။ | စုစုပေါင်းမတည်ငွေရင်းပမာဏ ထည့်ဝင်သည့်အမျိုးအစား<br>(က)ပြည်တွင်းမှထည့်ဝင်သည့်မတည်ငွေရင်းပမာဏ/ရာခိုင်နှုန်း<br>(ခ)နိုင်ငံခြားမှယူဆောင်လာမည့်မတည်ငွေရင်းပမာဏ/ရာခိုင်နှုန်း<br>**စုစုပေါင်း** | ကျပ်သန်း ၂၅၀.၀၀ (အမေရိကန်ဒေါ်လာ ၀.၀၇၆ သန်းအပါအဝင်)<br>US$(သန်း) / ကျပ်(သန်း) / ရာခိုင်နှုန်း<br>(က) ၀.၀၇၆ / ၂၅၀.၀၀ / ၁၀၀%<br>(ခ) - / - / -<br>စုစုပေါင်း - / ၂၅၀.၀၀ / - |
| ၇။ | အခြားတင်ပြချက် | (က) လုပ်ငန်းဆောင်ရွက်မည့် မြေနေရာ နှင့်စပ်လျဉ်း၍ ခရိုင်လယ်ယာမြေစီမံခန့်ခွဲရေးအဖွဲ့မှ တိုင်းလယ်ယာမြေ စီမံခန့်ခွဲရေးအဖွဲ့သို့ တင်ပြထားကြောင်း အထောက်အထား၊ ကုမ္ပဏီမှတ်ပုံတင် လက်မှတ်နှင့် သင်းဖွဲ့စည်းမျဉ်း သင်းဖွဲ့မှတ်တမ်းတို့ကို ပူးတွဲ တင်ပြထားပါသည်။<br>(ခ) ငွေကြေး အထောက်အထားအဖြစ် AYA Bank တွင် ၁၅-၁၁-၂၀၁၇ ရက်စွဲဖြင့် ဦးမောင်မောင်တင်၊ ဦးတင်ဦး၊ ဦးအေးကို၊ ဦးအောင်ဇော်လင်း အမည်ဖြင့် ကျပ် |

<table>
<tr><td></td><td></td><td>
၅၃,၁၃၅,၈၇၅.၀၀ ရှိကြောင်း တင်ပြထားပါသည်။<br>
(ဂ) ဝန်ထမ်းခန့်ထားမည့် အစီအစဉ်နှင့် လုပ်ခလစာကို အောက်ပါအတိုင်းတင်ပြထားပါသည်-<br>
စုစုပေါင်း ၂၂ ဦး (နေ့စား ၁၀ ဦးအပါအဝင်)<br>
ပြည်တွင်း- ၂၂ ဦး (တစ်လလျှင် ပြည်တွင်းဝန်ထမ်း တစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၁၅၅,၀၀၀ ၊အမြင့်ဆုံး လစာမှာ ကျပ် ၄၀၀,၀၀၀ ဖြစ်ပါသည်။)<br>
ပြည်ပ - ခန့်ထားခြင်းမရှိပါ။<br>
(ဃ)ကုမ္ပဏီ၏ ပထမနှစ် ထုပ်လုပ်မှုမှာ အောက်ပါအတိုင်းဖြစ်ပြီး ပြည်တွင်း၌ ၁၀၀ % ရောင်းချမည် ဖြစ်ကြောင်းတင်ပြထားပါသည်-
<table>
<tr><th>စဉ်</th><th>အမျိုးအစား</th><th>အရေအတွက် (MT)</th><th>တစ်ရက်ခန့်မှန်း ထုတ်လုပ်မှု တန်ချိန် (MT)</th></tr>
<tr><td>၁</td><td>စပါးခွံလောင်စာတောင့်</td><td>၅၇၆၀</td><td>၂၄</td></tr>
</table>
(င) ကုမ္ပဏီမှ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သန့်ရှင်းသာယာရေး အစီအစဉ်၊ လုပ်ငန်းခွင်သာယာရေး နှင့် ဝန်ထမ်း သက်သာချောင်ချိရေးစီမံ ဆောင်ရွက်မည့်အစီအစဉ်၊ မီးဘေးကာကွယ်ရေး စီမံချက်နှင့် CSR အစီအစဉ်များကို တင်ပြထားပါသည်။
</td></tr>
<tr><td>၈။</td><td>စိစစ်တင်ပြချက်</td><td>
(က) မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ အမိန့်ကြော်ငြာစာ ၁၅/၂၀၁၇ အရ စပါးခွံလောင်စာတောင့် ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်းသည် ကန့်သတ်သည့် လုပ်ငန်းစာရင်းတွင် ပါဝင်ခြင်း မရှိပါကြောင်းနှင့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်နိုင်သည့်လုပ်ငန်း အမျိုးအစားဖြစ်ပါ သည်။<br>
(ခ) အဆိုပြုလုပ်ငန်း ဆောင်ရွက်မည့်မြေနေရာ နှင့်စပ်လျဉ်း၍ မြေပိုင်ဆိုင်မှု မြေဂရန် အထောက်အထား (စက်မှုဇုန်မှအပ)နှင့် မြေပုံ ပူးတွဲတင်ပြရန် နှင့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု နည်းဥပဒေ ၁၁၇ (ဂ) အရ ရင်းနှီးမြှုပ်နှံမှုဆောင်ရွက်ရန် မြေအသုံးချမှု ပြောင်းလဲခြင်းအတွက် အဆိုပြုချက်အား အတည်ပြုပေးမည့် တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်အစိုးရ သို့မဟုတ် အခြားအစိုးရဌာန၊ အစိုးရအဖွဲ့အစည်းထံမှ ရယူသည့်
</td></tr>
</table>

| | | |
|---|---|---|
| | | ထောက်ခံစာ သို့မဟုတ် အလားတူ စာရွက်စာတမ်း သို့မဟုတ် ခွင့်ပြုချက် တင်ပြပေးရန် လိုအပ်ပါသည်။<br>(ဂ) အဆိုပြုလုပ်ငန်းဆောင်ရွက်မည့်မြေ ၂.၀၀ ဧကနှင့်စပ်လျဉ်း၍ ခရိုင်လယ်/စီမံ/တိုင်းလယ်/စီသို့ စပါးခွဲလောင်စာတောင့် ထုတ်လုပ်မှုစက်ရုံမြေအဖြစ် အသုံးပြုရန် ထောက်ခံ တင်ပြထားပါသည်။<br>(ဃ) ကုမ္ပဏီမှ PAT အစည်းအဝေးတွင် သက်ဆိုင်ရာဌာန အဖွဲ့အစည်းများ၏ ညွှန်ကြားချက်များအား လိုက်နာဆောင်ရွက်မည်ဖြစ်ကြောင်း တင်ပြထားပါသည်။ |




## ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
## ရောဝတီတိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုကော်မတီ

စာအမှတ်၊ ရေက/အ-၀၁၁/စက်မှု/၂၀၁၈( ၁၂၀ )

ရက်စွဲ ၊ ၂၀၁၈ ခုနှစ် ဧပြီ လ ၂၄ ရက်

**ရောဝတီတိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုကော်မတီသို့**
**တင်ပြသည့်အမှာစာ**

အကြောင်းအရာ။ **Amazing Advanced Transforming & Manufacturing Co., Ltd. မှ ရာခိုင် နှုန်းပြည့် မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် စပါးခွံလောင်စာတောင့် ထုတ်လုပ် ရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ အတည်ပြုလျှောက်ထားလွှာ တင်ပြလာခြင်းကိစ္စ**

၁။ Amazing Advanced Transforming & Manufacturing Co., Ltd. မှ ရောဝတီတိုင်းဒေသကြီး၊ မအူပင်ခရိုင်၊ ညောင်တုန်းမြို့နယ်၊ တူးချောင်းကျေးရွာအုပ်စု၊ ကွင်းအမှတ်- ၄၀၉၊ တူးချောင်းအကွက်၊ ဦးပိုင်အမှတ်- ၂၂၈ ရှိ မြေ ၂.၀၀ ဧကတွင် ရာခိုင်နှုန်းပြည့် မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဖြင့် စပါးခွံလောင်စာတောင့် ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရောဝတီတိုင်းဒေသကြီး ရင်းနှီးမြှုပ်နှံမှု ကော်မတီသို့ တင်ပြလာပါသည်။

၂။ လုပ်ငန်းဆောင်ရွက်မည့်မြေနေရာ နှင့်စပ်လျဉ်း၍ ခရိုင်လယ်ယာမြေစီမံခန့်ခွဲရေးအဖွဲ့မှ တိုင်းလယ်ယာမြေ စီမံခန့်ခွဲရေးအဖွဲ့သို့ ထောက်ခံတင်ပြထားကြောင်း အထောက်အထား၊ ကုမ္ပဏီ မှတ်ပုံတင်လက်မှတ် နှင့် သင်းဖွဲ့စည်းမျဉ်းသင်းဖွဲ့ မှတ်တမ်း တို့ကို ပူးတွဲတင်ပြထားပါသည်။

၃။ လုပ်ငန်းသက်တမ်း ကာလမှာ ၁၀ နှစ် ဆောင်ရွက်မည်ဖြစ်ပြီး တည်ဆောက်ရေးကာလမှာ ၆ လ ဖြစ်ပါသည်။

၄။ လုပ်ငန်း၏ စုစုပေါင်းရင်းနှီးမြှုပ်နှံမှုမှာ ကျပ် ၂၅၀.၀၀ သန်း (အမေရိကန်ဒေါ်လာ ၀.၀၇၆ သန်းအပါအဝင်) ဖြစ်၍ အောက်ပါ အတိုင်း ထည့်ဝင်မည်ဖြစ်ပါသည်-

| **ရင်းနှီးမြှုပ်နှံမှုပမာဏ** | **ကျပ်(သန်းပေါင်း)** | **US$ (သန်း)** |
|---|---|---|
| ပြည်တွင်းမှထည့်ဝင်သည့်မတည်ငွေရင်းပမာဏ | ၂၅၀.၀၀ | ၀.၀၇၆ |
| နိုင်ငံခြားမှယူဆောင်လာမည့်မတည်ငွေရင်းပမာဏ | - | - |
| **စုစုပေါင်း** | ၂၅၀.၀၀ | ၀.၀၇၆ |

၅။ လုပ်ငန်းဆောင်ရွက်ရန် ပြည်တွင်းဝန်ထမ်း ဦးရေ(၂၂)ဦး ခန့်ထားမည်ဖြစ်ပြီး ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာကျပ် ၁၅၅,၀၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ ကျပ် ၄၀၀,၀၀၀ နှင့် ပြည်ပဝန်ထမ်းခန့်အပ်ထားခြင်းမရှိကြောင်း တင်ပြထားပါသည်။

၆။ ငွေကြေး အထောက်အထားအဖြစ် AYA Bank တွင် ၁၅-၁၁-၂၀၁၇ ရက်စွဲဖြင့် ဦးမောင်မောင်တင်၊ ဦးတင်ဦး၊ ဦးအေးကို၊ ဦးအောင်ဇော်လင်း အမည်ဖြင့် ကျပ် ၅၃,၁၃၅,၈၇၅.၀၀ ရှိကြောင်းတင်ပြထားပါသည်။

၇။ ကုမ္ပဏီ၏ ပထမနှစ် ထုပ်လုပ်မှုမှာ အောက်ပါအတိုင်းဖြစ်ပြီး ပြည်တွင်း၌ ၁၀၀ % ရောင်းချမည် ဖြစ်ပါသည်-

| စဉ် | အမျိုးအစား | အရေအတွက် (MT) | တစ်ရက်ခန့်မှန်းထုတ်လုပ်မှုတန်ချိန် (MT) |
|---|---|---|---|
| (က) | စပါးခွံလောင်စာတောင့် | ၅၇၆၀ | ၂၄ |

၈။ အဆိုပြုလုပ်ငန်းနှင့် ပတ်သက်၍ တစ်ဖက်ပါအတိုင်း သဘောထားမှတ်ချက်များ ပြန်ကြားထားပါသည်-

(က) **ဧရာဝတီတိုင်းဒေသကြီးအစိုးရအဖွဲ့မှ** အဆိုပြုလုပ်ငန်းသည် ဒေသ၏ စီးပွားရေး၊ လူမှုရေး၊ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးအတွက် အကျိုးများစွာရှိမည်ဖြစ်၍ ထောက်ခံပါကြောင်းနှင့် လုပ်ထုံးလုပ်နည်းများနှင့်အညီ ဆက်လက်ဆောင်ရွက်သွားရန် ညွှန်ကြားထားပါသည်။

**နောက်ဆက်တွဲ**

(ခ) **ဧရာဝတီတိုင်းဒေသကြီး ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဦးစီးဌာနမှ** (၁/၂၀၁၈) ကြိမ်မြောက် အဆိုပြုချက် စိစစ်ရေးအဖွဲ့(PAT) အစည်းအဝေးတွင် အဆိုပြုလုပ်ငန်း/စီမံကိန်း အနေဖြင့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan- EMP) အား ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်း ဆိုင်ရာ လုပ်ထုံးလုပ်နည်း နှင့်အညီ ရေးဆွဲတင်ပြရန် မှတ်ချက်ပြုထားပါ သည်။

၉။ ကုမ္ပဏီမှ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သန့်ရှင်းသာယာရေးအစီအစဉ်၊ လုပ်ငန်းခွင်သာယာရေး နှင့် ဝန်ထမ်းသက်သာချောင်ချိရေးစီမံ ဆောင်ရွက်မည့်အစီအစဉ်၊ မီးဘေးကာကွယ်ရေး စီမံချက်နှင့် CSR အစီအစဉ်များကို တင်ပြထား ပါသည်။

၁၀။ **စိစစ်တင်ပြချက်**

(က) အဆိုပြုလုပ်ငန်းသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင် ၏ ၂၀၁၇ ခုနှစ်၊ ဧပြီလ ၁၀ ရက်နေ့ပါ အမိန့်ကြော်ငြာစာ အမှတ် ၁၅/၂၀၁၇ အရ ကန့်သတ်သည့် ရင်းနှီးမြှုပ်နှံမှု လုပ်ငန်းများစာရင်းတွင် ပါဝင်ခြင်းမရှိပါကြောင်း၊ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဆောင်ရွက်နိုင်သည့်လုပ်ငန်းဖြစ်ကြောင်း စိစစ်ရပါသည်။

(ခ) အဆိုပြုလုပ်ငန်း ဆောင်ရွက်မည့် အဆိုပါမြေ ၂.၀၀ ဧက အားလောင်စာတောင့်ထုတ်လုပ်မှုစက်ရုံမြေအဖြစ် အသုံးပြုရန် မအူပင် ခရိုင် လယ်ယာမြေ စီမံခန့်ခွဲမှုအဖွဲ့မှ တိုင်းလယ်ယာမြေစီမံခန့်ခွဲမှုအဖွဲ့သို့ ထောက်ခံတင်ပြထားကြောင်း စိစစ်ရပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၁။ Amazing Advanced Transforming & Manufacturing Co., Ltd. မှ ဧရာဝတီတိုင်းဒေသကြီး၊ မအူပင်ခရိုင်၊ ညောင်တုန်းမြို့နယ်၊ တူးချောင်းကျေးရွာအုပ်စု၊ ကွင်းအမှတ်- ၄၈၉၊ တူးချောင်းအကွက်၊ ဦးပိုင်အမှတ်- ၂၂၈ ရှိ မြေ ၂.၀၀ ဧကတွင် ရာခိုင်နှုန်းပြည့် မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် စပါးခွံလောင်စာတောင့် ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုရန် သဘောတူ-မတူ။

25/4/2018

ဥက္ကဋ္ဌ(ကိုယ်စား)

(စိုးအောင်၊ အတွင်းရေးမှူး)

မိတ္တူကို

ရုံးလက်ခံ




**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**

**တိုင်းဒေသကြီးအစိုးရအဖွဲ့**

**ရောဝတီတိုင်းဒေသကြီး**

စာအမှတ်၊ ၄၀၀/ ၄ - ၈( ၄ )/ အစိုးရ (ရောဝတီ)

ရက်စွဲ၊ ၂၀၁၈ ခုနှစ်၊ မတ်လ ၁၄ ရက်

သို့

အတွင်းရေးမှူး

ရောဝတီတိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုကော်မတီ

(ညွှန်ကြားရေးမှူး၊ ရောဝတီတိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန)

ပုသိမ်မြို့

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက် ။ ရောဝတီတိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုကော်မတီ၏ (၂၇.၂.၂၀၁၈) ရက်စွဲပါ စာအမှတ်၊ ရေက/အ-၀၁၁(စက်မှု)/ရင်း(၂)/၂၀၁၈(၀၄၅)

၁။ Amazing Advanced Transforming & Manufacturing Co.,Ltd မှ ရောဝတီတိုင်းဒေသကြီး၊ မအူပင်ခရိုင်၊ ညောင်တုန်းမြို့နယ်၊ တူးချောင်းကျေးရွာအုပ်စု၊ ကွင်းအမှတ်-၄၀၉၊ တူးချောင်းအကွက်၊ ဦးပိုင်အမှတ်-၂၂၈ရှိ မြေ(၂.၀၀)ဧကတွင် စပါးခွဲလောင်စာတောင့် ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာမှုအပေါ် သဘောထားမှတ်ချက် ပြုပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် တင်ပြလာပါသည်။

၂။ အထက်ပါ အဆိုပြုလုပ်ငန်းသည် ဒေသ၏ စီးပွားရေး၊ လူမှုရေး၊ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးအတွက် အကျိုးများစွာရှိမည်ဖြစ်၍ ထောက်ခံပါကြောင်းနှင့် လုပ်ထုံးလုပ်နည်းများနှင့်အညီ ဆက်လက်ဆောင်ရွက်သွားရန် အကြောင်းကြားပါသည်။

၁၄.၃.၁၈

ဝန်ကြီးချုပ်( ကိုယ်စား)

(ငွေးဝင်း၊ စီမံကိန်းနှင့်ဘဏ္ဍာရေးဝန်ကြီး)

မိတ္တူကို

လှည့်လည်စာတွဲ

ရုံးလက်ခံ